

ဧရာဝတီတိုင်းဒေသကြီး ၊ ပုသိမ်မြို့

# လေးကျွန်းရန်အောင် ဖောင်တော်ဦးစေတီတော်မြတ်ကြီး

# "ရေကြည်/ရေနှောက် ဘုရားကြီး"

# သမိုင်းအကျဉ်း

အရှင်တေဇဝံသ (ပုသိမ်)

# လေးကျွန်းရန်အောင် ဖောင်တော်ဦးစေတီတော်

ပုဂံပြည့်ရှင် မဏိစည်သူဘွဲ့ခံ အလောင်းစည်သူမင်းကြီးသည် ခရစ်နှစ် (၁၁၁၅ ခုနှစ်) တွင် ဇမ္ဗူဒိပ်ကျွန်းအနှံ့ ဖောင်စကြာဖြင့် တိုင်းခန်းလှည့်လည်ရာ သီဟိုဠ်သို့ ရောက်ခဲ့သည်။ သီဟိုဠ်မှအပြန်ခရီးတွင် ပုသိမ်မြို့၌ ခရီးတစ်ထောက်ရပ်နားခဲ့သည်။

## ပုဂံရောက်ကွင်းမှ ဘွဲ့သုံးမည်စေတီမြတ်

သို့ပါ၍ ထိုဒေသတွင် ပုဂံမင်းရောက်သည်ကို အစွဲပြုကာ 'ပုဂံရောက်ကွင်း' ဟု တွင်ခဲ့သည်။ ထိုမှ တစ်ဖန် ပြန်လည်ထွက်ခွာခါနီးတွင် အလောင်းစည်သူမင်းကြီးသည် ကိုးတောင်အမြင့်ရှိ စေတီတော်ကို တည်ပြီး 'ဖောင်တော်ဦးစေတီတော်' ဟူ၍ ဘွဲ့မည်သမုတ်တော်မူခဲ့သည်။

ခရစ်နှစ် ၁၉၃၀ ပြည့်နှစ်တွင် ဦးပဏ္ဏဝဘွဲ့မည်ရှိသော ရဟန်းတစ်ပါးသည် တပည့်များနှင့် စေတီတော်ကို ပြုပြင်ရန် ကြိုးပမ်းခဲ့သည်။ မအောင်မြင်ခဲ့ပေ။ ထိုနှစ်မှာပင် မဟာဗောဓိကျောင်း ဆရာတော် ဦးနန္ဒိယကိုယ်တော် ဦးစီးပြီး ပြန်လည်ပြုပြင်ခဲ့သည်။ ပြန်လည်ပြုပြင်ရာ၌ စစ်ကိုင်းကောင်းမှုတော်စေတီတော်ကြီး၏ နမူနာကိုယူ၍ လုံးဝန်းသော သဏ္ဌာန်ဖြင့် တည်တော်မူခဲ့သည်။ ထိုသို့တည်ရာတွင် မူလစေတီငယ်ကို လိုဏ်ဂူသဖွယ် နေရာချန်လှပ်ပြီး ငုံ၍တည်ခြင်းဖြစ်သည်။ တည်နေစဉ် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လာသောကြောင့် ရပ်တန့်ထားရပြီး ခရစ်နှစ် ၁၉၅၀ ပြည့်နှစ် ကျမှသာလျှင် ပြီးစီးခဲ့သည်။

ဘုရားတော်အမြင့်မှာ (၈၄ ပေ) ရှိခဲ့သည်။ မြန်မာနိုင်ငံ လွတ်လပ်ရေးရပြီးမှ တည်ထားခြင်းဖြစ်သည့်အတွက် အတိတ်နိမိတ်ယူကာ ' ပြည်လုံးချမ်းသာစေတီတော် ' ဟု ဘွဲ့မည်တွင်ခဲ့သည်။

## ရာဇဝင်ထဲက မောင့်ကန်၊ နှမကန်

စေတီတော်ကြီး၏ အရှေ့ဘက်စူးစူးတွင် တည်ရှိသော မောင့်ကန်၊ နှမကန်အကြောင်းကို ဆက်လက်ဖော်ပြလိုပေသည်။ ထိုနှစ်ကန်မှာ စေတီတော်ကြီး၏ သမိုင်းနှင့်ဆက်နွယ်နေပြီး မြန်မာနိုင်ငံတွင် ထူးခြားဆန်းပြားပြီး ရှားပါးလှသော အကြောင်းအရာတစ်ရပ်ပင် ဖြစ်သည်။ ရေကန်နှစ်ကန်မှာ ထိစပ်လျက်ရှိပြီး နှစ်ကန်စလုံးသည် လေးထောင့်စတုရန်းပုံဖြစ်သည်။ အကျယ်အဝန်းမှာ ပေ ၁၃၀ ပတ်လည်ခန့်ရှိသည်။

ထူးဆန်းသည်မှာ ကန်တစ်ကန်မှရေသည် နောက်လျက်၊ ကန်တစ်ကန်မှရေသည် ကြည်လင်လျက်ရှိနေသည်။ လွန်ခဲ့သောနှစ်ပေါင်း (၄၀၀) ခန့်က အဖြစ်အပျက်တစ်ရပ်ဖြစ်ပြီး အမျက်ဒေါသကြောင့် ပေါ်လာသော ကျိန်စာများသည်လည်းကောင်း၊ မေတ္တာကြောင့် ဖြစ်ပေါ်လာသော သစ္စာစကားများ

သည် လည်းကောင်း ယနေ့တိုင် ယင်းအကျိုးဆက်များကို တွေ့မြင်နေကြရသည်။

ခရစ်နှစ် ၁၅၂၄ ခုနှစ်တွင် မွန်ဘုရင် သမလ-ဝိမလတို့၏ အဆက်အနွယ်ဖြစ်သော မွန်မင်းသမီး မောင်နှမတို့ ရှိခဲ့သည်။ တစ်ခါသော် မောင်နှမချင်း စိတ်ဝမ်းကွဲပြား၍ နှမတော်က ပုသိမ်မြို့တောင်ဘက်သို့ ထွက်လာသည်။

ပုဂံရောက်ကွင်းသို့ ရောက်သောအခါ အလောင်းစည်သူမင်းကြီး တည်ထားခဲ့သော ဖောင်တော်ဦးစေတီကို ဖူးမြော်ရပြီး ထိုစေတီတော်ကို ပြုပြင်မွမ်းမံ၍ ငုံပြီး စေတီတည်ထားရန် ဆန္ဒဖြစ်ပေါ်လာခဲ့သည်။ သို့ပါ၍ အုတ်ဖုတ်ရန်အတွက် ရေကန်တစ်ကန် တူးဖော်ခဲ့သည်။ ထိုကန်မှ ရွှံ့မြေအုတ်များဖြင့် ဝိဟာရဒေဝီ မင်းသမီးသည် စေတီတော်ကိုတည်ပြီးသောအခါ ဤပုဂံရောက်ကွင်းမှ ဆက်လက်ထွက်ခွာသွားသည်။

ထိုအချိန်တွင် မင်းသမီးမှာ အမျက်စောင်မာန် ရှိနေသေး၍ မိမိတူးဖော်ထားသော ရေကန်၌ "ဤကန်မှရေကို ယူငင်သုံးဆောင်မိသော သတ္တဝါ မှန်သမျှသည် ဘေးဒုက္ခကြုံတွေ့ကာ သေကြေပျက်စီး လျက် ရေသည်လည်း နောက်ကျိသောအဆင်းကို ဆောင်ပါစေသတည်း" ဟူ၍ ကျိန်စာဆိုခဲ့သည်။

ထို့နောက် မောင်တော်ပြဟ္မဒေဝမင်းသားသည် စစ်အင်္ဂါလေးပါးခြံရံလျက် နှမတော်ကို ရှာဖွေရန် လိုက်လာရာ ထိုဒေသသို့ရောက်ရှိပြီး ခေတ္တမျှ စခန်းချ အနားယူနေစဉ် တပ်တော်ပါ ဆင်တစ်စီးသည် နှမတော် တူးဖော်ခဲ့သောရေကန်မှရေကို သောက်မိသဖြင့် လတ်တလော သေဆုံးသွားသည်။ ထိုအခြင်းအရာကို မင်းသားမြင်၍ စူးစမ်းဆင်ခြင်သောအခါ နှမတော်၏ အကြံအစည် အမျက်စောင်မာန်ကို ရိပ်မိခဲ့သည်။ ထိုအခါမင်းသားသည် သတ္တဝါတို့အား ဘေးဒုက္ခ

ငြိမ်းပြေပျောက်စေလိုသော စိတ်ဆန္ဒဖြင့် နှမတော်ကန်နှင့် ထိစပ်၍ ရေကန်တစ်ကန် ထပ်မံတူးဖော်လေသည်။ ကန်မှရသော ရွှံ့မြေနှင့် အုတ်ပြုလုပ်၍ 'စကြာမုနိ' ဘွဲ့မည်ပေး၍ စေတီတစ်ဆူ တည်ခဲ့သည်။

ထို့ပြင် 'မသိနားမလည်၍ နှမတော်၏ရေကန်မှ ရေကိုသောက်သုံးမိသောကြောင့် ဘေးဥပါဒ်ဆိုက်ကပ်သော လူ၊ သတ္တဝါအပေါင်းတို့သည် ငါ၏ရေကန်မှရေကြည်အေးကို သောက်သုံးလိုက်ပါက ဘေးရန်အပေါင်းမှ ကင်းလွတ်ပျောက်ကင်းပါစေသတည်း။ ထိုကန်မှရေသည်လည်း ကြည်လင်အေးမြသောအဆင်းကို ဆောင်ပါစေသတည်း"ဟု သစ္စာအဓိဋ္ဌာန်ပြုခဲ့လေသည်။

ထိုသို့ သမိုင်းကြောင်းရှိခဲ့ပြီး အစဉ်အဆက် ထူးခြားမှုများလည်း ရှိခဲ့သည်။ ရပ်ရွာဒေသတွင် ထူးခြားသော ဖြစ်ရပ်များဖြစ်ပေါ်ရန်ရှိပါက ကြည်သော

ရေကန်သည်နောက်၍ နောက်သော ရေကန်သည် ကြည်တတ်ခြင်းပင်ဖြစ်သည်။

ရေကန်နှစ်ကန်မှာ အနားစပ်ချင်းထိ၍ ရေချင်း ဆက်နေသော်လည်း ရေကြည်ရေနောက်ပြောင်းလဲ ခြင်းမှာ ထူးခြားလှပေသည်။ ယခုအခါတွင် နှစ်ကန် စလုံးမှာ ရေကြည်နေသည်ကိုတွေ့ရသည်။ ထိုနှစ်ကန် ၏ဘေးတွင် မောင်နှမနှစ်ဦး၏ရုပ်ထုများနှင့် နတ်နန်း လည်း ထားရှိပေသည်။

ယခုကဲ့သို့ အဘက်ဘက်မှ သမိုင်းတန်ဖိုးကြီးမား လှသော ပုဂံရောက်ကွင်းခေါ် ရေကြည်ရေနောက် ကုန်းတော်မှ သမိုင်းဝင်ဖြစ်ရုပ်များနှင့် စေတီတော် ကြီးသည် ယခင်က ချုံနွယ်ပိတ်ပေါင်းများဖွာ ထူထပ် ကာ ဘုရားဖူးများ အရောက်အပေါက်နည်းခဲ့သည်။

## ကြည်ညိုဖူးမြော်စေတီတော်

ထိုသို့သော အခြေအနေတို့ကြောင့် သာသနာ့အမွေအနှစ်များ၊ ယဉ်ကျေးမှုအမွေအနှစ်များ ကြာရှည်စွာ တည်တံ့ခိုင်မြဲအောင် ထိန်းသိမ်းထားရှိနိုင်ရေးအတွက် ရှေးဦးစွာ စေတီတော်ကြီးဖြစ်မြောက်ရေးအတွက် ဂေါပကအဖွဲ့ကို ဖွဲ့စည်းပေးခဲ့သည်။ ထို့နောက် ၁၉၈၉ ခုနှစ်၊ ဖေဖော်ဝါရီလ (၂၀) ရက်နေ့မှစ၍ တပ်မတော်သားများ၊ ပြည်သူ့ရဲတပ်ဖွဲ့ဝင်များ၊ ဌာနဆိုင်ရာဝန်ထမ်းများ၊ ရပ်ကွက်ကျေးရွာတို့မှ ပြည်သူများသည် နေ့ရောညပါ ချုံနွယ်များ ရှင်းလင်းခြင်း၊ ပြုပြင်တည်ဆောက်ခြင်းများတွင် လုပ်အားပေးခဲ့ကြသည်။

ဆက်လက်၍ ၁၉၈၉ ခုနှစ်၊ မတ်လ (၂၁) ရက်နေ့တွင် ပုပ္ပါးနှင့် ပဲခူးသာသနာပြုပုဂ္ဂိုလ်ဖြစ်သော ရသေ့ကြီး ဦးပြည့်စုံ အကူအညီဖြင့် အုတ်မြစ်ချ

အခမ်းအနားကို ကျင်းပခဲ့ကြသည်။ ထို့အပြင် ပုဂံ၊ ပုပ္ပါးတွင် သာသနိကအဆောက်အအုံများကို ပြုပြင်တည်ဆောက်ခဲ့သူ တောင်သာမြို့နယ်၊ ဆိမ်းကန်ရွာမှ ပန်းတော့ ဗိသုကာဆရာကြီး ဦးစောလှသည်လည်း တပည့်များနှင့်အတူ ရောက်ရှိလာပြီး စေတီတော်ကြီးကို ပန်းထောင်၊ ပန်းဆွဲ၊ ကနုတ်ပန်း၊ ရုပ်လုံးအမျိုးမျိုးအပြင် နတ်ရုပ်များ၊ မိုးကြိုးကွင်းနှင့် သန်လျက်ကိုင် ပုဂံစစ်သည်ပုံများပါမကျန် နုနုလှလှ ကြွကြွရွရွ ထုလုပ်တပ်ဆင်ခဲ့ကြသည်။

ရောဝတီတိုင်းသည် မြန်မာနိုင်ငံ၏ အနောက်တောင်ဘက်အစွန်းတွင် တည်ရှိပြီး ပထဝီအနေအထားအရ သာသနာတော် ထွန်းကားရာ မြန်မာပြည်အလယ်ပိုင်းနှင့် ခရီးကွာလှမ်းလျက်ရှိနေသည်။ သို့ပါ၍ သာသနာ့ရေးရာတွင် အခေါင်အထွတ်ဖြစ်သည့် ပုဂံအနုပညာလက်ရာများကို စေတီတော်ကြီးတွင်

မျက်ဝါးထင်ထင် တွေ့မြင်စေလိုသော စေတနာဖြင့် ပုဂံပြည့်ရှင် အလောင်းစည်သူမင်းကြီး၏ မူလကောင်းမှု ဖြစ်သော စေတီတော်အပေါ်မှငုံ၍ ပုဂံမြို့ဟောင်းရှိ တန်ခိုးကြီးဘုရားများ၏ ပုံသဏ္ဍာန်များကို ကူးယူ တည်ဆောက်ခဲ့သည်။

ထိုသို့ တည်ဆောက်ရာတွင် စေတီတော်ကြီး၏ အောက်ခြေပိုင်းတွင် ကန်တော့ပလ္လင်ဘုရား၏ သဏ္ဍာန်အမြင့် ၂၂ ပေ၊ စေတီတော်ကြီးအလယ်ပိုင်း တွင် သဗ္ဗညုဘုရား၏ သဏ္ဍာန်အမြင့် ၄၉ ပေ၊ ၉ လက်မ၊ စေတီတော်ကြီး၏အပေါ်ဆုံးပိုင်းကို အာနန္ဒာဘုရား၏ သဏ္ဍာန်အမြင့် ၇၅ ပေ၊ ၃ လက်မ နှင့် ထီးတော်အမြင့် ၁၅ ပေ အပါအဝင် စုစုပေါင်း အားဖြင့် ၁၆၂ ပေ၊ အတောင်အားဖြင့် ၁၀၈ တောင် ရှိသည်။ စေတီတော်ကြီး၏ဘွဲ့မည်တော်ကို အခြေခံ လျက် 'လေးကျွန်းရန်အောင် ဖောင်တော်ဦးစေတီ'

ဟူ၍ ဘွဲ့မည်ကို ကမ္ပည်းတင်ပြီး သမုတ်တော်မူခဲ့သည်။

စေတီတော်ကြီးသည် ၁၉၈၉ ခုနှစ်၊ မတ်လ (၂၁) ရက်နေ့တွင် အုတ်မြစ်ချခဲ့ရာ ၁၉၉၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ (၂၄) ရက်နေ့တွင် ဌာပနာပိတ်ပွဲကျင်းပခြင်း၊ (၂၈) ရက်နေ့တွင် ထီးတော်၊ ငှက်မြတ်နားတော်နှင့် စိန်ဖူးတော်များတင်ခဲ့သည်။ မတ်လ (၁) ရက်နေ့တွင် ဗုဒ္ဓဘိသေကအနေကဇာတင်ပွဲကျင်းပပြီး (၂) ရက်နေ့တွင် အဘိဓမ္မာပဋ္ဌာန်းဒေသနာတော်များရွတ်ဖတ်၍ ဆွမ်းတော်ကြီးပွဲများကျင်းပကာ စေတီတော်ကြီး အောင်မြင်စွာတည်ထားပြီးကြောင်း ကမ္ပည်းတင်နိုင်ခဲ့ကြသည်။

စေတီတော်ကြီးအား တည်ဆောက်ရာ၌ မူလတည်ထားခဲ့သော စေတီတော်များကိုရှံ၍ တည်ထားခဲ့သည့်အတွက် ဘုရားဖူးရာတွင် မူလတည်ရှိရာ

ဖောင်တော်ဦးစေတီတော်ကို လိုဏ်ဂူအတွင်း၌ ထီးတော်နှင့်တကွ တည်ရှိနေသကဲ့သို့ ပြည်လုံးချမ်းသာစေတီတော်ကိုလည်း ထီးတော်နှင့်တကွ တည်ရှိနေသည်ကို ဖူးမြော်ရသည်။

ထို့အပြင် အသစ်ထပ်မံတည်ဆောက်သည့် လေးကျွန်းရန်အောင် ဖောင်တော်ဦးစေတီတော်ကြီးကိုလည်း ဖူးမြော်နိုင်သဖြင့် တစ်ချိန်တည်း၊ တစ်ပြိုင်တည်းတွင် စေတီတော်သုံးဆူကို ဖူးမြော်ကြည်ညိုရမည်ဖြစ်သည်။ စေတီတော်အတွင်းသို့ ဝင်ရောက်ဖူးမြော်လျှင် အတွင်းလိုဏ်ပတ်လမ်းကိုပတ်၍ ကြည်ညိုပါက ပုဂံခေတ်မှ ရတနာပုံခေတ်အထိ ခေတ်လေးခေတ်မှ တင်ပလ္လင်ခွေ ရုပ်ပွားတော်ကြီးလေးဆူမှာ ခေတ်၏ကြေးမုံပြင်သဖွယ် ပြောင်းလဲမှုများကို လေ့လာတွေ့ရှိဖူးမြော်ရမည်ဖြစ်သည်။

ထို့နောက် အထက်ပစ္စယံသို့ တက်ရောက်ဖူးမြော်မည် ဆိုပါလျှင်လည်း ရာဇမုနိ၊ လာဘမုနိ၊ အဘယမုနိ စသည့် ကြေးသွန်းမုနိတော်လေးဆူကိုလည်း ထူးခြားစွာ ဖူးတွေ့ကြရမည်ဖြစ်သည်။

**စေတီတော်ကြီး၏ထူးခြားချက်များ**

(၁) မူလစေတီတော်များ ပုံတော်များ၊ ထီးတော်မပျက်နှင့် စေတီသုံးဆင့် ထီးသုံးဆင့်ရှိခြင်း

(၂) ကန်တော့ပလ္လင်ဘုရား၊ သဗ္ဗညုဘုရားနှင့် အာနန္ဒာဘုရား စသည့် ဘုရားသုံးဆူပုံတော်ဖြင့် တည်ထားခြင်း

(၃) မြောက်ဘက်သို့ လှည့်ထားသော တဝဂူပါရှိခြင်း

(၄) အောက်ပစ္စယံအတွင်း စေတီတော်တွင် လှူဒါန်းကြည်ညိုနိုင်ခြင်းနှင့် ပုတီးစိပ်နိုင်ခြင်း

(၅) အထက်ပစ္စယံတွင် အမျိုးသားများ တက်ရောက် ဘုရားကြည်ညိုခြင်းနှင့် ပုတီးစိပ်နိုင်ခြင်း

(၆) မြွေကြီးများ လာရောက်ဖူးမြော်တတ်ခြင်းတို့ ဖြစ်ပါသည်။

## ထူးထူးခြားခြား မြွေဘုရားဖူး

စိတ်ဝင်စားဖွယ်ကောင်းသော မြွေကြီးများ သုံးကြိမ်တိုင် လာရောက်ဖူးမြော်ပုံကို ဖော်ပြလိုပေသည်။ ၁၉၈၉ ခုနှစ်၊ စက်တင်ဘာလ (၂၆) ရက်နေ့ ည (၈) နာရီခွဲမှစ၍ (၂၇) ရက်နေ့ နံနက် (၁) နာရီခန့်အထိ အရှည် (၁၀) ပေနီးပါး၊ လုံးပတ်ထွာဆိုင်ခန့်ရှိသော ငန်းတော်ကျား မြွေမင်းသားကြီးတစ်ကောင်သည် စေတီတော်တည်ဆောက်နေသည့်အကြားမှ ဝင်လာပြီး မူလစေတီတော်ကလေးအောက်ခြေတွင်

လူးလွန့်ရစ်ပတ်၍ ဖူးမြော်ခဲ့သည်။ ၁၉၉၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ (၂၆) ရက်နေ့ ဌာပနာပိတ်ပွဲကျင်းပသည့်ရက်တွင် အရှည် (၄) ပေ၊ လုံးပတ် (၂) လက်မခွဲခန့်ရှိသည့် ဒုတိယမြွေသူတော်တစ်ကောင်သည် လူအများနေထိုင်ကြသည့် ဇဟိုဆြည့်ခံမဏ္ဍပ်အတွင်းသို့ ဝင်ရောက်လာပြီး သင်ဖြူးဖျာများအောက်မှ ဘုရားဘက်သို့ခေါင်းစိုက်ပြီး နံနက် (၁၀) နာရီ (၃၀) မိနစ်မှ (၁၁) နာရီ (၅၅) မိနစ်အထိ (၂၅) မိနစ်ကြာအောင် ဖူးမြော်ခဲ့သည်။ ထို့နောက် မည်သူ့ကိုမျှ ရန်မမူဘဲ ပြန်လည်ထွက်ခွာသွားခဲ့သည်။ ၁၉၉၁ ခုနှစ်၊ ဇန်နဝါရီလ (၂၉) ရက်နေ့၊ ည (၈) နာရီမှ နောက်နေ့နံနက် (၄) နာရီခွဲအထိ တတိယမြွေသူတော်တစ်ကောင်သည်လည်း အနောက်ဘက် မုခ်ဦးအနီးမှ လာရောက်၍ စေတီတော်ကြီးအား ဖူးမြော်ခဲ့သည်။

စေတီတော်ကြီးကို ယခုကဲ့သို့ တည်ထား ကိုးကွယ်ရာ၌ မူလက ငွေကျပ် သိန်းတစ်ရာကျော် ကုန်ကျမည်ဟု ခန့်မှန်းခဲ့သော်လည်း စေတီတော်ကြီး တည်ဆောက်ပြီးစ ၁၉၉၀ ပြည့်နှစ်၊ မတ်လအထိ ငွေကျပ် (၆၂) သိန်းကျော်သာ ကုန်ကျခဲ့သည်။ (၅. ၇. ၁၉၉၁) ရက်နေ့အထိ အလှူငွေရရှိခြင်းမှာ ၂၁၄,၇၀၆၁၈ ကျပ်ဖြစ်ပြီး သုံးစွဲခဲ့သည့်ငွေပေါင်းမှာ ၁၅၆,၇၉၇၅၄ ကျပ်ဖြစ်ရာ လက်ကျန်ငွေမှာ ၅၇,၉၀၈၆၄ ကျပ်ဖြစ်ကြောင်း သိရှိရသည်။

ယခုအခါ ပရိဝုဏ်အတွင်းတည်ရှိသော ရွှေသာလျောင်းဘုရားနှင့် တန်ဆောင်း၊ ဆပ္ပုရှ ရဟန္တာမထေရ်၏ ရေသိမ်၊ ရေကြည်ရေနောက်ကန်၊ နတ်နန်းနှင့် ဗောဓိပင်များ၊ မုဒ္ဒောကိုးဆူ အပါအဝင် သုမင်္ဂလာစေတီ၊ စကြာမုနိစေတီ၊ နိမသောင်စေတီ များ၊ ဂေါပကရုံးနှင့် ပြတိုက်တော်တို့ကို တည်ဆောက်

ခြင်း၊ ပြုပြင်မွမ်းမံခြင်းများ ပြီးစီးခဲ့သည်။ ဆက်လက်၍ ပန်းဥယျာဉ်တွင် သစ်ပင်ပန်းမန်များ စိုက်ပျိုးခြင်း၊ နဂါးရုံဘုရားနှင့် စောင်းတန်း (ယခင်ကျိုက်ထီးရိုး တောင်ဘုရား) တို့ကို ပြုပြင်ပြီး ဂေါပကရုံးနှင့် မလှမ်းမကမ်းတွင် သတ္တဌာနရုပ်ပြတော်များနှင့် အဆောက်အအုံများ ပြုလုပ်ခြင်း၊ ကုန်းတော်အဝင်ဝ နားတွင် တည်းခိုဆောင်များ ဆောက်လုပ်ခြင်း၊ ပုဂံရောက်ကွင်း သာသနာ့ကုန်းမြေပတ်လည်တွင် အနက် (၉) ပေ၊ အကျယ် (၂၄) ပေရှိ ကျုံးတူးခြင်း နှင့် အခြားကျန်ရှိနေသည်များကို ဆက်လက်ပြုပြင် မွမ်းမံတည်ဆောက်ခဲ့ပါသည်။

ယခင်က တည်ခဲ့သော ကျိုက်ထီးရိုးစေတီ နှင့် စောင်းတန်း၏သမိုင်းကြောင်းကို ဖော်ပြရမည် ဆိုလျှင် ပုသိမ်မြို့၊ လှည်းစုရပ်မှ ဦးမောင်တင် ဆိုသူ သည် သက္ကရာဇ် ၁၃၁၃ ခုနှစ်မှ ၁၃၁၇ ခုနှစ်အထိ (၄) နှစ်တာကာလအတွင်း တောင်စောင်းငယ်တစ်ခု

ဖြစ်ပေါ်စေရန် ကိုယ်တိုင်မြေဖို့၍ ဖန်တီးခဲ့သည်။ ဦးမောင်တင်၏ ရည်ရွယ်ချက်မှာ ဤဒေသရှိသက်ကြီး ရွယ်အိုများ၊ နယ်သူနယ်သားများအတွက် ကျိုက်ထီးရိုး ဘုရားကြီးကို ရည်မှန်း၍ ဖူးမြော်နိုင်ရန် တည်ထား ခဲ့ခြင်းဖြစ်သည်ဟု သိရှိရသည်။ တောင်ထိပ်တွင် လည်း အာရုံခံတန်ဆောင်းငယ်တစ်ခုကို ဆောက်လုပ် ခဲ့သည်။ ဦးမောင်တင် သည် ၎င်းကိုယ်တိုင် အသက် (၅၀) နှစ်အရွယ်က စတင်၍တည်ဆောက်ခဲ့သော မထင်မရှား တောင်စွယ်တောင်တန်းငယ်ကလေးမှ ယခုကဲ့သို့ ထည်ဝါခန့်ညားသော နဂါးရုံဘုရားကြီးနှင့် စောင်းတန်းတော်ကြီး၊ မုခ်ဦးနှင့် အာရုံခံတန်ဆောင်း တို့ကို မျက်ဝါးထင်ထင် တွေ့မြင်ရသောအခါ ပီတိဖြာ ခဲ့ရသည်။ သို့သော် မူလ ဒါယကာကြီး ဦးမောင်တင် သည် အသက် (၉၀) နှစ်အရွယ် (၂၁. ၅. ၉၁) ရက်နေ့ တွင် အနိစ္စရောက်ရှာသည်။ နဂါးရုံဘုရားနှင့် စောင်းတန်းတော်ကြီး၏အရှည်မှာ ပေ ၃၅၀ အထိ

ရှိသည်။ အဆင့်ဆင့် ဆောင်ရွက်ခဲ့သော ပညာရှင်များမှာ အဆောက်အအုံအကြမ်းထည်အတွက် မြို့ပြအင်ဂျင်နီယာဆောက်လုပ်ရေးသမ/အသင်းကလည်းကောင်း၊ ပန်းတော့ပညာရှင်အဖြစ် စေတီတော်ကြီးတည်ဆောက်သူ တောင်သူမြို့နယ်၊ ဆီမီးကန်ရွာမှ ပန်းတော့ဆရာကြီး ဦးစောလှကလည်းကောင်း၊ ပန်းတည်းပညာရှင်အဖြစ် တမ္ပဝတီရပ်မှ ဦးအောင်ဖြိုးကလည်းကောင်း၊ တာရာဇိုကျောက်ခင်းလုပ်ငန်းကို ဦးလှအောင်နှင့်အဖွဲ့ကလည်းကောင်း၊ ဆေးသုတ်လုပ်ငန်းကို ဦးစံလင်းနှင့်အဖွဲ့ကလည်းကောင်း အသီးသီး ဆောင်ရွက်ခဲ့ကြသည်။

နဂါးရုံဘုရားနှင့်စောင်းတန်းတော်တို့၏ပုံစံမှာ အပြည်ပြည်ဆိုင်ရာ ဗုဒ္ဓဘာသာအမွေအနှစ်တို့ကို တန်ဆာဆင်ကာ ဤဒေသ၌ မွန်ခေတ်ရိုးရာတို့ကို အခြေခံလျက် ရှေးလက်ရာ၊ ခေတ်လက်ရာတို့ဖြင့် ပေါင်းစပ်ပြီး ခေတ်မီ၍ ရှေးခေတ်လက်ရာဆန်သော အဆောက်အအုံအဖြစ် တည်ဆောက်ခဲ့ခြင်းဖြစ်သည်။

ပုဂံရောက်ကွင်းပေါ်မှ သမိုင်းဝင်လေးကျွန်းရန်အောင်ဖောင်တော်ဦးစေတီတော်နှင့် တကွ ပရိဝုဏ်အတွင်းရှိ ဘုရားများ၊ သာသနိက အဆောက်အအုံများအား ဘုရားဖူးများ ပုသိမ်မြို့တွင်းမှ အလွယ်တကူ လာရောက်ဖူးမြော်နိုင်ရန်အတွက် ပုသိမ်မြို့တွင်းမှ ဘုရားပရိဝုဏ်အတွင်းသို့ လိုင်းကားပြေးဆွဲပေးလျက်ရှိရာ အဆင်ပြေလှပေသည်။ ထို့အပြင် ရောဝတီတိုင်း၏ ကျက်သရေဆောင် သမိုင်းဝင်စေတီတော်ကြီးအား ရောဝတီတိုင်းအတွင်းသာမက မြန်မာနိုင်ငံအရပ်ရပ်မှ ဘုရားဖူးများသည် မီးရထား၊ ကား၊ သင်္ဘောတို့ဖြင့် လာရောက်ဖူးမြော်နိုင်ကြပေသည်။ သို့အတွက်ကြောင့် တစ်ခါတစ်ခေါက် လာရောက်ဖူးမြော်ကြရင်း ဒါနမျိုးစေ့ ပိုမိုရှင်သန်ကြီးထွားနိုင်ရန်အတွက် တတ်နိုင်သမျှ အလှူဒါနပြုကြပါဟု တိုက်တွန်းနှိုးဆော်လိုက်ရပါသည်။

■

